ကုမ္ပဏီအမည် - Win & Win Company Limited

လုပ်ငန်း - သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၆-၆-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁-၇-၂၀၁၅ | ၂၉-၇-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၆-၂၀၁၅ | ၂၁-၇-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၆-၆-၂၀၁၅ | ၁၇-၇-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | ၂၂-၆-၂၀၁၅<br>၂၁/၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၂-၆-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၃-၈-၂၀၁၅ | |
| ၆ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | ၄-၈-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၅၀ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Win & Win Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်ပါးလွှာ ထုတ်လုပ်ခြင်းရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ကျောက်ဆည်(စက်ဘီးစက်ရုံ)၊ ကျောက်ဆည် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၀၅၇.၂၅ သန်း |
| ရောင်းချမည့်စနစ် | ၁၀၀% ပြည်ပပို့ |
| လုပ်ငန်းသက်တမ်း | ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | ၄ နှစ် နှင့် ၃ လ |
| IRR | ၁၇.၉၁% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ် ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၄.၁၉၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၀ |
| ၅ | ဝင်ငွေခွန် | ၂၂၇.၉၂၇ | ၃၀၁.၂၁၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၅၈၁.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း( ၁၈ )ဦး |
| ၈ | CSR ( ၃ %) | | ၃၅.၀၉၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၃၇၀.၈၆၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၃၀ ဦး<br>ပြည်တွင်းလုပ်သား (၃၃၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ၃၀၄.၂၇၈ | ၁၂၈၉.၃၂၅ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီလီမိတက်မှ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဝင်းနှင့် ဝင်း ကုမ္ပဏီလီမိတက် |
| | ကမကထပြုသူ | - ဦးဝင်းဆွေ(အဘ-ဦးကြင်ဝမ်) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး။ |
| ၅။ | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယာဉ် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) |
| | မြေအကျယ်အဝန်း | - ၂၇.၆၅ ဧကအနက်မှ ၁၅.၂၆ ဧက |
| | မြေငှားသက်တမ်း | - ကနဦး နှစ် ၅၀ (သက်တမ်းတိုး ၁၀ နှစ် ၂ကြိမ်) |
| | နှစ်စဉ်မြေငှားရမ်းခ | - ၂၇.၆၅ ဧကအတွက် ကျပ် ၉၆ သန်း ဖြစ်ပါသည်။ ၁၅.၂၆ဧက (၆၁၇၅၅.၀၈ စတုရန်းမီတာ) အတွက် ကျပ် ၅၂.၉၈ သန်း ဖြစ်ပါသည်။ တစ်နှစ်တစ်စတုရန်းမီတာလျှင် ၈၅၇.၉၀ ကျပ်နှုန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **- ကျပ် ၁၀၅၇.၂၅ သန်း** |
| | - အဆောက်အဦး | ကျပ် ၁၇၀.၂၃ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၁.၄၂ သန်း |
| | - ရုံးသုံးပစ္စည်းများ | ကျပ် ၄.၃၅ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၇၄၇.၂၅ သန်း |
| | - မော်တော်ယာဉ် | ကျပ် ၃၃.၀၀ သန်း |
| | - ငွေသား | ကျပ် ၁၀၀.၀၀ သန်း |
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ(ဆဋ္ဌမနှစ်) | - ကျပ် ၃,၁၇၆.၀၄ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ကျပ် ၃,၀၄၆.၉၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၁၂၉.၀၉ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် (၆)နှစ်မြောက် ဝင်ငွေခွန် | - ကျပ် ၄၃.၀၃ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၄ နှစ် နှင့် ၃ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၇.၉၁% |
| ၁၃။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀% ပြည်ပရောင်း |

| | | |
|---|---|---|
| ၁၄။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၁၀၀% ပြည်ပရောင်း) | **စဉ် / ပစ္စည်းအမျိုးအစား / ထုတ်လုပ်မှု (တန်) / ရောင်းဈေးနှုန်း (US$/တန်)**<br>၁ Plywood ၂,၃၀၀ ၃၀၀<br>၂ Teak Veneer ၅၀၀ ၁,၉၂၀<br>၃ Other Assorted Hard Wood Veneer ၅,၁၀၀ ၃၃၂ |
| ၁၅။ | ဝန်ထမ်းအင်အား | - စုစုပေါင်း ၃၃၀ ဦး<br>- ပြည်တွင်း ၃၃၀ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ဖြစ်ပါသည်။) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၀၀ KVA |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၃% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု အစီအစဉ် | - စက်ရုံဝင်းအတွင်းအရေးပေါ် သုံးစွဲနိုင်ရန် သင့်တင့်လျောက်ပတ်သောအကျယ်အဝန်းရှိသည့်ရေကန်များ ထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား ၁၀ပေ အကွာစီတွင်ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊ သဲနှင့် ရေများလည်းထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန်တည်ဆောက်၍ စနစ်တကျ သိမ်းဆည်းထားရှိမည်ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေး အတွက် နယ်မြေခံ စည်ပင်သာယာရေး ကော်မတီနှင့်လည်း ညှိနှိုင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်အမည်ဖြင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် ၈-၇-၂၀၁၅ အထိ USD ၆၀,၈၇၈.၈၆နှင့် ကမ္ဘောဇဘဏ်(ကမာရွတ်) တွင် ၂၁-၇-၂၀၁၅ အထိ ကျပ် ၆၉,၆၃၇,၁၂၁.၅၃ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |
| ၂၀။ | စိစစ်တင်ပြချက် | - အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း)၊ စက်မှု ဝန်ကြီးဌာန နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော စက်ဘီးစက်ရုံ(ကျောက်ဆည်) အား ငှားရမ်းသည့် သဘောတူစာချုပ် တင်ပြထားပါသည်။ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၂၅ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၃/၂၀၁၃ ၏ သဘောတူခွင့်ပြုချက်အရ ၁-၅-၂၀၁၃ ရက်နေ့မှ စတင်၍ နှစ် ၃၀ ငှားရမ်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။<br>- စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော ပထမအကြိမ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ် တင်ပြထားပါသည်။ ငှားရမ်းသက်တမ်းကို ၁-၅-၂၀၁၃ မှ ၃၀-၄-၂၀၆၃ အထိ နှစ် ၅၀ အပေါ် တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်းတိုးမြှင့်ဆောင်ရွက်ရန်အတွက် ပြင်ဆင်ချုပ်ဆိုခြင်း ဖြစ်ပါသည်။<br>- ၎င်းပြင်ဆင်ချုပ်ဆိုသည့် သဘောတူစာချုပ် အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက် ပြန်ကြားပြီးဖြစ်ပါသည်။<br>- ငှားရမ်းခွင့် ရရှိထားသည့်မြေမှာ ၂၇.၆၅ ဧက ဖြစ်ပြီး ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်သို့ စက်ဘီးစက်ရုံ(ကျောက်ဆည်)အား ငှားရမ်းသည့် သဘောတူစာချုပ် ရည်ရွယ်ချက်တွင် စက်ဘီးထုတ်လုပ်ခြင်း လုပ်ငန်း၊ ဆေးရုံသုံးကုတင်၊ ပရိဘောဂ နှင့် အိမ်သုံးပရိဘောဂပစ္စည်းများ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချသွားရန်နှင့် သစ်ပါးလွှာလုပ်ငန်း ဆောင်ရွက်ရန်ဟု ဖော်ပြပါရှိပါသည်။ |

| | | |
|---|---|---|
| | | - ငှားရမ်းမြေ ၂၇.၆၅ ဧကအနက် ၁၅.၂၆ ဧကတွင် သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီး ကျန် ၁၂.၃၉ ဧကတွင် ဆေးရုံသုံး သံထည် ကုတင် နှင့် ပရိဘောဂ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။<br>- တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်ရန် အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် ဘဏ်ခွဲ ၃၊ ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေး ဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှု မှတ်တမ်းအား အမှတ် ၃ အကြီးစား စက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) တွင် သိမ်းဆည်း ထားရှိရမည်ဟု ဖော်ပြပါရှိပါသည်။<br>- လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လစာခွန် ပေးဆောင်မည် ဖြစ်ကြောင်းဝန်ခံကတိပြုလွှာ၊ လျှပ်စစ်ဓာတ်အားနှင့် ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း၊ လက်ရှိ အဆောက်အဦ ဓာတ်ပုံများ၊ စက်ရုံ Layout Plan တင်ပြထားခြင်း၊ တည်နေရာပြမြေပုံ၊ စက်ရုံငှားရမ်းရေးအတွက် စက်ရုံဆိုင်ရာ အချက်အလက်များနှင့် ဓာတ်ပုံများ အား တင်ပြထား ပါသည်။<br>- သစ်ကုန်ကြမ်း ရယူသုံးစွဲမည့် နည်းလမ်းများနှင့် လက်ရှိတွင် ဖြူးမြို့နယ် မြရာပင်ကြိုးဝိုင်းတွင် ကုမ္ပဏီပိုင် ပုဂ္ဂလိကသစ်တောစိုက်ခင်း (၅၀၅၀) ဧကတွင် ကျွန်းစိုက်ခင်း တည်ထောင်ထားပြီး ထပ်မံ တည်ထောင်နိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရကက - ၂/ မ-၂၁၇/၂၀၁၅ (၅၉၅)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယာဉ် စက်ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း) ပိုင် စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီးရှိ မြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၅.၂၆ ဧကတွင် BOT စနစ်ဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းဆွေ (အဘ-ဦးကြင်ဝမ်) မှ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပါသည်။ နှစ်စဉ် မြေနှင့် အဆောက်အဦငှားရမ်းခမှာ ၂၇.၆၅ ဧက အတွက် ကျပ် ၉၆ သန်း ဖြစ်ပါသည်။ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့် ၁၅.၂၆ ဧက (၆၁၇၅၅.၀၈ စတုရန်းမီတာ) အတွက် ကျပ် ၅၂.၉၈ သန်း ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာ လျှင် ကျပ် ၈၅၇.၉၀ နှုန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာစုစုပေါင်း ကျပ် ၁၀၅၇.၂၅ သန်း ဖြစ်ပြီး အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | အဆောက်အဦး | ကျပ် | ၁၇၀.၂၃ သန်း |
| (ခ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် | ၁.၄၂ သန်း |
| (ဂ) | ရုံးသုံးပစ္စည်းများ | ကျပ် | ၄.၃၅ သန်း |
| (ဃ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၇၄၇.၂၅ သန်း |
| (င) | မော်တော်ယာဉ် | ကျပ် | ၃၃.၀၀ သန်း |
| (စ) | ငွေသား | ကျပ် | ၁၀၀.၀၀ သန်း |
| | စုစုပေါင်း | ကျပ် | ၁၀၅၇.၂၅ သန်း |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၃၃၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသောထုတ်ကုန်များကို ၁၀၀ % ပြည်ပသို့ တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (တန်) | ရောင်းဈေးနှုန်း (US$/တန်) |
|---|---|---|---|
| (က) | Plywood | ၂,၃၀၀ | ၃၀၀ |
| (ခ) | Teak Veneer | ၅၀၀ | ၁,၉၂၀ |
| (ဂ) | Other Assorted Hard Wood Veneer | ၅,၁၀၀ | ၃၃၂ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆ နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပြီး အမေရိကန်တစ်ဒေါ်လာလျှင် ၉၅၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေ | - ကျပ် ၃,၁၇၆.၀၄ | သန်း |
| (ခ) | အသုံး စရိတ် | - ကျပ် ၃,၀၄၆.၉၅ | သန်း |
| (ဂ) | အသားတင်အမြတ် | - ကျပ် ၁၂၉.၀၉ | သန်း |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄၃.၀၃ ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၃လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၁၇.၉၁ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံ ခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါ သည်-

(က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လက်ရှိ မြို့ပြစီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း

နှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်စနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသားတင်အမြတ်ငွေ၏ ၃% အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုအပ်ကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ IEE နှင့် EMP ရေးဆွဲရေးနှင့် ပုဂ္ဂလိကသစ်စိုက်ခင်း တည်ထောင်ရေးအတွက် ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာ အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေးအထောက်အထားအဖြစ် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှု ဘဏ်တွင် ၈-၇-၂၀၁၅ အထိ USD ၆၀,၈၇၈.၈၆ နှင့် ကမ္ဘောဇဘဏ် (ကမာရွတ်) တွင် ၂၁-၇-၂၀၁၅ အထိ ကျပ် ၆၉,၆၃၇,၁၂၁.၅၃ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် (Win & Win Company Limited) သည် ကုမ္ပဏီ မှတ်ပုံတင်အမှတ်-၈၆၅/၁၉၉၉-၂၀၀၀(၂၄-၉-၁၉၉၇)ဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်မိတ္တူ၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း တို့ကို တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသား၂ ဦးဖြင့် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး၊ မည်သည့်နိုင်ငံခြားသားမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ မီးဘေး ကြိုတင်ကာကွယ်မှုအတွက် စက်ရုံဝင်းအတွင်း အရေးပေါ်သုံးစွဲနိုင်ရန် သင့်တင့်လျောက်ပတ်သော အကျယ်အဝန်းရှိသည့် ရေကန်များထားရှိမည် ဖြစ်ကြောင်း၊ မီးသတ်ဗူးများအား ၁၀ပေ အကွာစီ တွင်ထားရှိမည်ဖြစ်ကြောင်း၊ မီးချိတ်၊ မီးကပ်၊ သဲနှင့် ရေများလည်း ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံမှထွက်ရှိလာသော အမှိုက်များကိုလည်း အမှိုက်ကန်တည်ဆောက်၍ စနစ်တကျ သိမ်းဆည်းထားရှိမည်ဖြစ်ကြောင်း၊ အမှိုက်သိမ်းဆည်းရေး အတွက် နယ်မြေခံ စည်ပင်သာယာရေး ကော်မတီနှင့်လည်းညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်းဝန်ထမ်းများအား အလှည့်ကျစေလွှတ်၍ တက်ရောက်စေမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် စက်ရုံဝန်ထမ်း အလုပ်သမားများအတွက် အခမဲ့ ကြို/ပို့ ဖယ်ရီကားများ စီစဉ်ထားရှိမည် ဖြစ်ပါကြောင်း၊ နေ့လည်စာနှင့် လက်ဖက်ရည် ကျွေးမွေးမည်ဖြစ်ပါကြောင်း၊ လုပ်ငန်းကျွမ်းကျင်မှု သင်တန်းများအား အလျဉ်းသင့်သလို စီစဉ်၍ တက်ရောက်စေမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ အချိန်ပိုဆင်းရပါက တစ်နာရီအတွက် လုပ်အားခ ငွေကြေးအား ၂ ဆ တွက်ချက်ပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံတွင် ရှေးဦး သူနာပြုသင်တန်း များနှင့်နာမကျန်းသူများ နားနေခန်း ၁ ခန်း စီစဉ်ထားရှိမည်ဖြစ်ကြောင်း၊ ထိခိုက်ဒဏ်ရာရရှိပါက လူမှုဖူလုံရေး ဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှု ခံယူစေမည် ဖြစ်ပါကြောင်း၊ ဝင်ငွေခွန်ပေးဆောင်ခြင်းနှင့် ပတ်သက်၍ ဝန်ထမ်းများ၏ လစာငွေ တစ်နှစ် လျှင် ဝင်ငွေကျပ် သိန်း ၂၀ ထက်ကျော်လွန်ပါက ဝင်ငွေခွန်ကို သတ်မှတ်ထားသည့်နှုန်းများ အတိုင်း ပေးဆောင်ရမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်မှ လျှပ်စစ်ဓာတ်အား ရရှိပါက သုံးစွဲမည်ဖြစ်ပြီးလျှပ်စစ်ဓာတ်အား မရရှိသော အချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် သုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၃။ ဝင်းနှင့် ဝင်းကုမ္ပဏီလီမိတက် (Win & Win Company Limited) မှ မြန်မာနိုင်ငံတော်ရှိ လူမှုအဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၃% အား CSR ရန်ပုံငွေ အဖြစ် ထားရှိသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ သစ်ကုန်ကြမ်းရယူသုံးစွဲမည့်နည်းလမ်းများနှင့် လက်ရှိတွင် ဖြူးမြို့နယ် မြရာပင်ကြိုးဝိုင်းတွင် ကုမ္ပဏီပိုင် ပုဂ္ဂလိကသစ်တောစိုက်ခင်း (၅၀၅၀) ဧကတွင် ကျွန်းစိုက်ခင်းတည်ထောင်ထားပြီး ထပ်မံ တည်ထောင်နိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ လျှောက်ထားဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် မတ်လ ၂၃ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၁၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင် မည်ဖြစ်ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း ( ယခင် စက္ကူနှင့်အိမ်သုံး ပစ္စည်း လုပ်ငန်း)၊ စက်မှုဝန်ကြီးဌာနနှင့် ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော စက်ဘီးစက်ရုံ (ကျောက်ဆည်)အား ငှားရမ်းသည့်သဘောတူ စာချုပ် တင်ပြထား ပါသည်။ ၂၀၁၃ ခုနှစ် ဇူလိုင်လ ၂၅ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု အစိုးရ အဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၃/၂၀၁၃ ၏ သဘောတူ ခွင့်ပြုချက်အရ ၁-၅-၂၀၁၃ ရက်နေ့မှ စတင်၍ နှစ် ၃၀ ငှားရမ်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယခင် စက္ကူနှင့် အိမ်သုံး ပစ္စည်းလုပ်ငန်း) နှင့် ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော ပထမအကြိမ် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ် တင်ပြထားပါသည်။ ငှားရမ်းသက်တမ်းကို ၁-၅-၂၀၁၃ မှ ၃၀-၄-၂၀၆၃ အထိ နှစ် ၅၀ အပေါ် တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်းတိုးမြှင့်ဆောင်ရွက်ရန်အတွက် ပြင်ဆင်ချုပ်ဆိုခြင်း ဖြစ်ပါသည်။

(ဂ) ၎င်းပြင်ဆင်ချုပ်ဆိုသည့် သဘောတူစာချုပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှ သဘောထား မှတ်ချက် ပြန်ကြားချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်ပါသည်။

(ဃ) ငှားရမ်းခွင့်ရရှိထားသည့်မြေမှာ ၂၇.၆၅ ဧကဖြစ်ပြီး ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက်သို့ စက်ဘီးစက်ရုံ (ကျောက်ဆည်) အား ငှားရမ်းသည့်သဘောတူစာချုပ် ရည်ရွယ်ချက် တွင် စက်ဘီးထုတ်လုပ်ခြင်းလုပ်ငန်း၊ ဆေးရုံသုံးကုတင်၊ ပရိဘောဂနှင့် အိမ်သုံး

ပရိဘောဂပစ္စည်းများ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချသွားရန်နှင့် သစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဟု ဖော်ပြပါရှိပါသည်။

(ဃ) ငှားရမ်းမြေ ၂၇.၆၅ ဧကအနက် ၁၅.၂၆ ဧကတွင် သစ်ပါးလွှာ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး ကျန် ၁၂.၃၉ ဧကတွင် ဆေးရုံသုံး သံထည်ကုတင်နှင့် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(င) တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်ရန် အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ်၊ ဘဏ်ခွဲ-၃၊ ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်) တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းအား အမှတ် ၃ အကြီးစား စက်မှုလုပ်ငန်း (ယာဉ် စက်ကိရိယာနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)တွင် သိမ်းဆည်းထားရှိရမည်ဟု ဖော်ပြပါရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

စက်မှုဝန်ကြီးဌာန၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း (ယာဉ် စက်ကိရိယာနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း) ပိုင် စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီးရှိ မြေဧရိယာ ၂၇.၆၅ ဧက အနက် ၁၅.၂၆ ဧကတွင် BOT စနစ်ဖြင့် ဝင်း နှင့် ဝင်း ကုမ္ပဏီ လီမိတက် (Win & Win Company Limited) မှ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

Win & Win Company Limited ၏ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးဝင်းဆွေ ၁၂/လသန(နိုင်)၀၀၇၃၅၇ | မန်နေးဂျင်းဒါရိုက်တာ | အမှတ်-(၄၀၀)၊ ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့ |
| ၂ | ဒေါ်မြတ်သီတာမြင့် ၁၂/ ကမရ (နိုင်) ၀၂၈၇၁၉ | ဒါရိုက်တာ | အမှတ်-၇၆/အီး၊ အင်းလျားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၅၀၀၈၉၄၊ ၀၁-၅၀၇၄၄၃

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-(၄၀၀)၊ ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးဝင်းဆွေ၊ မန်နေးဂျင်းဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ - သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၈၆၅/၁၉၉၉-၂၀၀၀ (၂၄-၉-၁၉၉၇)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၁-၇-၂၀၁၃ မှ ၃၀-၆-၂၀၁၈

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - Myanma Foreign Trade Bank၊1DA-04-97217



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆(၁၆၅)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း
ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏(၁.၇.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၂ / ဓ - ၂၁၇ / ၂၀၁၅ (၅၂၃)

၁။ ကျောက်ဆည်မြို့နယ်၊ စက်တီးစက်ရုံ(ကျောက်ဆည်)၊ ဦးပိုင်အမှတ်-၁/ ၁၊၂၊ ၄၊ ၅၊ ၆၊ အိုအေ၊ ကွင်းအမှတ်(၂၁၉/ခ)၊ကျောက်ခြသေ့်နှင့် ဦးပိုင်အမှတ်(၆၊၇၊၈)၊ ကွင်းအမှတ်(၂၁၈-က)၊ ကုလားကျောင်းရှိ မြေဧရိယာ(၁၅.၂၆)ဧကအား ငှားရမ်းပြီး သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဝင်းနှင့်ဝင်း ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်သွားမည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် လုပ်ငန်းလုပ်ကိုင်နိုင်သည့် မြေနေရာဖြစ်ခြင်း၊ တိုင်းဒေသကြီးအတွင်း အမှန်တကယ် လိုအပ်သည့် လုပ်ငန်းဖြစ်ခြင်း၊ ဒေသခံများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ဖြစ်ပေါ်စေခြင်းတို့အပြင် အောက်ပါအချက်များနှင့်လည်း ကိုက်ညီမှုရှိသည်ကို စိစစ်တွေ့ရှိရပါသည် -

(က) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည်၊

(ဂ) အဆိုပါ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါသည်၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သီးခြားအကြံပြုရန် မရှိပါ ။

၃။ သို့ဖြစ်ပါ၍ ဝင်းနှင့် ဝင်းကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်သည့် သစ်ပါးလွှာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လုံခြုံလည်စာတွဲ / ရုံးလက်ခံ ။



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

မှတ်၊ 33 / ၁/၇

စာအမှတ် ၃(၁)/၁၁(ဃ)(၆)/( ၁၄၃၂ / ၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆ - ၆ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၁၇ / ၂၀၁၅ ( ၄၉၅ )

၁။ ဝင်းနှင့်ဝင်းကုမ္ပဏီလီမိတက် ( Win and Win Company Limited ) သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ စက်ဘီးစက်ရုံ (ကျောက်ဆည်) ၊ ဦးပိုင် အမှတ် - ၁ / ၀၊ ၂၊ ၄၊ ၅၊ ၆ ၊ အိုအေ၊ ကွင်းအမှတ် - ၂၁၉ / ခ ကျောက်ခြသေ့် နှင့် ဦးပိုင်အမှတ် ၆ ၊ ၇ ၊ ၈ ၊ ကွင်းအမှတ် - ၂၁၈ - က၊ ကုလားကျောင်းရှိ မြေအကျယ် (၁၅.၂၆) ဧကတွင် သစ်ပါးလွှာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအား စိစစ်ရာတွင် သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း ၊ သုံးစွဲခြင်းစသည့် လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန်အမွှားများ ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်ခြင်းများ ဖြစ်ပေါ်စေနိုင်ပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက်တည်ထောင်ခြင်းသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခြင်းဖြစ်ပြီး ကုမ္ပဏီအနေဖြင့် ယခင်ကတည်းက သစ်အခြေခံစက်မှုလုပ်ငန်း ဆောင်ရွက်နေသူ ဖြစ်သဖြင့် ရေရှည်တွင် သစ်ကုန်ကြမ်း ရရှိနိုင်ရန်အတွက် ပုဂ္ဂလိက ကျွန်းစိုက်ခင်း ( ၁၈၅၅ ) ဧက တည်ထောင်ထားသူဖြစ်၍ ကန့်ကွက်ရန် မရှိပါကြောင်း နှင့် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပမြဲလုပ်မည့် ပြည်တွင်း / ပြည်ပ အိတ်ဖွင့်တင်ဒါများတွင်လည်း ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ( Win and Win Company Limited ) မှ သစ်ပါးလွှာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဖက်ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၃%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း



MIC, 20 17/7

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆(၁၂၁၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၆. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ- ၂၁၇/ ၂၀၁၅ (၄၉၆)

၁။ Win & Win Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ စက်ဘီးစက်ရုံ(ကျောက်ဆည်)၊ ဦးပိုင်အမှတ်(၁/၁၊ ၂၊ ၄၊ ၅၊ ၆)၊ အိုအေ၊ ကွင်းအမှတ်(၂၁၉/ခ) ကျောက်ခြသေ့နှင့် ဦးပိုင်အမှတ်(၆၊ ၇၊ ၈)၊ကွင်းအမှတ်(၂၁၈/က)၊ ကုလားကျောင်းတွင် သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍Win & Win Co.,Ltd. မှ သစ်ပါးလွှာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီး

မြေပြင်နှံ့မှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅.၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန